



# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-...၄၄၆...../၂၀၀၀။          ၂၀၀၀ ပြည့်နှစ်၊ နိုဝင်ဘာ   လ ၂၂ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ...ဒေါ်ဆုဝေနှင်း...

(ခ) အဘအမည် ...ဦး စိုင်း သန်း အောင်...

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ...၁၂/မရက(နိုင်)၁၃၂၂၁၆...

(ဃ) နေရပ်လိပ်စာ ...အမှတ်(၇၀)၊ မြေညီထပ်၊ (၅၀)လမ်း၊
...ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့...

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ...ဗင်(န်)တေ့(ချ်)ကုမ္ပဏီ
...လီမိတက် (Vantage Co., Ltd.)...

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ...အအေးခန်း စက်ရုံတည်ဆောက်၍
...ရေခဲရေငန်ငါး၊ ပုဇွန်ဝယ်ယူထုတ်လုပ်ခြင်း လုပ်ငန်း...

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ဦးပိုင်အမှတ် ၁၇၁/၂၇၂(ခ)၊ ကွင်း
အမှတ်(၂၃၆)၊အိုးလုပ်ပြင်၊ အင်းလေးမြိုင်စက်မှုဇုန်၊ မြိတ်တောင်ကျေးရွာ
အုပ်စု၊ မြိတ်မြို့နယ်

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ...(၆၃.၀၀) သန်း...
(ကျပ် ခြောက်ဆယ့်သုံး သန်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊၃၇၅/၂၀၀၀ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၂ ခုနှစ်တန် ဆောင် မုန်းလပြည့်ကျော် ၁၂ ရက်။
(၂၀၀၀ ပြည့်နှစ်၊ နိုဝင်ဘာလ ၂၂ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော ဗင်(န်)တေ့(ချ်) ကုမ္ပဏီ လီမိတက် (Vantage Co., Ltd.) သည် မြိတ်ခရိုင်၊ အထွေထွေအုပ်ချုပ်ရေး ဦးစီးဌာနမှ ဗင်(န်)တေ့(ချ်) ကုမ္ပဏီ လီမိတက် အမည်ဖြင့် ငါးမှုန့်ကြိတ် စက်ရုံလုပ်ငန်း လုပ်ကိုင်ရန် အသုံးပြုခွင့် ရရှိထားသော တနင်္သာရီတိုင်း၊ မြိတ်မြို့နယ်၊ မြိတ်တောင် ကျေးရွာအုပ်စု၊ အင်းလေးမြိုင် စက်မှုဇုန်၊ အိုးလုပ်ပြင်၊ ကွင်းအမှတ် (၂၃၆)၊ ဦးပိုင်အမှတ် ၁၈၁/၂၈၂(ခ) ရှိမြေ (၄.၈၉) ဧက (၁၉၇၈၉.၁၅ စတုရန်းမီတာ) ပေါ်တွင် အအေးခန်းစက်ရုံတည်ဆောက်၍ ရေချိုရေငန် ငါး၊ ပုစွန် ဝယ်ယူထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၂-၁၀-၂၀၀၀)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏(၃၃/၂၀၀၀)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘော တူညီခဲ့ပြီး (၁၉-၁၀-၂၀၀၀) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၁၃/၂၀၀၀) ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ ( ၉ -၁၁-၂၀၀၀)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ ( ၄၂/၂၀၀၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ဗင်(န်)တေ့(ချ်) ကုမ္ပဏီ လီမိတက် (Vantage Co., Ltd.)အား အအေးခန်းစက်ရုံ တည်ဆောက်၍ ရေချိုရေငန် ငါး၊ ပုစွန် ဝယ်ယူထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၄၄၆/၂၀၀၀ ကို ထုတ်ပေး လိုက်သည်။

၂။ ဗင်(န်)တေ့(ချ်) ကုမ္ပဏီ လီမိတက် (Vantage Co., Ltd.)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ် လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည် ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန်

သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစား နိုင်ရန် အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါလုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ် ခွင့်(သို့မဟုတ်) သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလကုန်ဆုံး ပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်းအမှန်တကယ်အကောင်အထည် ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကို သတ်မှတ် သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ်လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန် ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန် အကောက် များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေး ချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List)

များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ဗဲင်(န်)တေ့(ချ်) ကုမ္ပဏီ လီမိတက် (Vantage Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ်(Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည် ပေးဆပ်သည့်အခါ အဆိုပြုလုပ်ငန်းမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှစက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက်ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

၆။ ဗဲင်(န်)တေ့(ချ်) ကုမ္ပဏီ လီမိတက် (Vantage Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု နှင့်ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များအဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၇။ ဗဲင်(န်)တေ့(ချ်) ကုမ္ပဏီ လီမိတက် (Vantage Co., Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၉။ ဗဲင်(န်)တေ့(ချ်) ကုမ္ပဏီ လီမိတက် (Vantage Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၀။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၁။ ဗဲင်(န်)တေ့(ချ်) ကုမ္ပဏီ လီမိတက် (Vantage Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက် ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၂။ ဗင်(န်)တေ့(ခ်ျ) ကုမ္ပဏီ လီမိတက် (Vantage Co., Ltd.)သည် ပူးတွဲပါ ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၃။ အဆိုပြု လုပ်ငန်းစတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၁/မ-၆၄၃/၂၀၀၀ (၂၅၇၉-ပ)
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ နိုဝင်ဘာလ ၂၂ ရက်။

ဖြန့်ဝေခြင်း-
၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ တနင်္သာရီတိုင်း အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီရုံး။
၄။ အစိုးရအဖွဲ့ရုံး။
၅။ စစ်ဦးစီးချုပ်ရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၃။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။
၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်ပငွေ အခွန်များ ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန။
၂၆။ မြိတ်ခရိုင် အထွေထွေအုပ်ချုပ်ရေး ဦးစီးဌာန။
၂၇။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၈။ ဒါရိုက်တာ၊ ဗဲင်(န်)တေ့(ချ်) ကုမ္ပဏီ လီမိတက် (Vantage Co., Ltd.)။